




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၀၇၂ /၂၀၁၈ ၂၀၁၈ ခုနှစ်၊ မတ် လ ၂၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့် ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးဝမ်ဖာမြင့် (ခ) ဦးကျော်မြင့်

(၂) **နိုင်ငံသား** မြန်မာနိုင်ငံသား

(၃) **နေရပ်လိပ်စာ** အမှတ် (၁၆)၊ အကွက်(အက်ဖ်)၊ မြို့သစ်(၁)ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးမြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** တောင်သမန်သစ္စာကုမ္ပဏီလီမိတက်၊ အမှတ်- အက်ဖ်(၄)၊ သရဖီလမ်း၊ ၆၅ လမ်းနှင့် ၆၆ လမ်းကြား၊ မြို့သစ်-၁ ရပ်ကွက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးမြို့

(၅) **ဖွဲ့စည်းရာအရပ်** မြန်မာနိုင်ငံ

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် ခရီးသွားအပန်းဖြေစခန်း(Resort) ဝန်ဆောင်မှုလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** ဦးပိုင်အမှတ်- ၉၉၊ ၁၀၀၊ ၁၀၃/၁၊၁၀၃/၂၊ ၁၀၄၊ ၁၀၅၊ ၁၃၄/၁၊ ၁၃၅၊ ၁၃၈/၁၊ ၁၃၈/၂၊ ၁၃၉၊ ၁၅၀/၂၊ ၁၅၂/၁၊ ၁၅၂/၂/ ၁၅၃/၁၊ အကွက်အမှတ်-၅၉၂ (တောင်သမန်)၊ တောင်သမန်ကျေးရွာအုပ်စု၊ အမရပူရမြို့နယ်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေ (၄၀.၂၇)ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၃၂,၃၈၈.၉၅ သန်း (ကျပ်သုံးသောင်း နှစ်ထောင် သုံးရာ ရှစ်ဆယ့်ရှစ်သန်းနှင့် ကိုးသိန်းငါးသောင်းခန့်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၄ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** TAUNG THA MAN THIT SAR COMPANY LIMITED (တောင်သမန်သစ္စာကုမ္ပဏီလီမိတက်)

27.3.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်



**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(အ)/ခ-၀၂၂/၂၀၁၈ (၁၀၆၈)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် မတ် လ ၂၇ ရက်

အကြောင်းအရာ။ **Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်)၏ မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် ခရီးသွားအပန်းဖြေစခန်း (Resort) ဝန်ဆောင်မှုလုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) ၏ ၂၂-၃-၂၀၁၇ ရက်စွဲပါ စာ

၁။ Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီ လီမိတက်)သည် မန္တလေးတိုင်းဒေသကြီး၊ အမရပူရမြို့နယ်၊ တောင်သမန်ကျေးရွာအုပ်စု၊ အကွက် အမှတ်-၅၉၂ (တောင်သမန်)၊ ဦးပိုင်အမှတ်- ၉၉၊ ၁၀၀၊ ၁၀၃/၁၊၁၀၃/၂၊ ၁၀၄၊ ၁၀၅၊ ၁၃၄/၁၊ ၁၃၅၊ ၁၃၈/၁၊ ၁၃၈/၂၊ ၁၃၉၊ ၁၅၀/၂၊ ၁၅၂/၁၊ ၁၅၂/၂/ ၁၅၃/၁ ရှိ စုစုပေါင်းမြေဧရိယာ ၄၀.၂၇ ဧကတွင် မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန်ကျေးလက် ခရီးသွားအပန်းဖြေစခန်း (Resort) ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြ ခြင်းအား ၂၀၁၈ ခုနှစ် မတ်လ ၂၀ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါ သည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) အား မြန်မာ့ရိုးရာယဉ်ကျေးမှုနှင့် တောင်သမန် ကျေးလက်ခရီးသွားအပန်းဖြေစခန်း (Resort) ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၇၂/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၈) ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၁၂)အရ မြေအသုံးပြုခွင့်လျှောက်ထားနိုင်သည်။

(ဂ) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ်** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဃ) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental and Social Impact Assessment-ESIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(စ) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့်

သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဓ) Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်ပြုခွင့် နှင့်ပတ်သက်၍ မြေအသုံးပြုချမှုပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာဥပဒေနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည်တင်ပြသွားရမည်။

၄။ Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာ ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြား လိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့် အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

27.3.18

(ကျော်ဝင်း)
ဥက္ကဋ္ဌ

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သာသနာရေးနှင့်ယဉ်ကျေးမှုဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ မန္တလေးမြို့

ညွှန်ကြားရေးမှူးချုပ်၊ ရှေးဟောင်းသုတေသနနှင့် အမျိုးသားပြတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

တိုင်းဒေသကြီးဦးစီးမှူးရုံး၊မန္တလေးတိုင်းဒေသကြီး၊

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

Taung Tha Man Thit Sar Company Limited (တောင်သမန်သစ္စာကုမ္ပဏီလီမိတက်)